**အကြောင်းအရာ။** ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dream Vision Co., Ltd.မှ ရုပ်သံဇာတ်လမ်းတွဲများရိုက်ကူး၊ ထုတ်လုပ်ခြင်းလုပ်ငန်း (media content production and distribution) လုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Dream Vision Co., Ltd.<br>- ဒေါ်နန်းမောက်လောင်ဝ်ဆိုင် |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Shwe Than Lwin Media Co., Ltd. (မြန်မာ) မှ ၆၀.၁၁ %<br>Cool Japan Fund Inc (ဂျပန်) မှ ၂၀.၄၈ %<br>Fund Corporation for the Overseas Development of Japan's ICT and Postal Services (ဂျပန်) မှ ၁၈.၂၅ %<br>Japan International Broadcasting Inc (ဂျပန်) မှ ၁.၁၆ % |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရုပ်သံဇာတ်လမ်းတွဲများ ရိုက်ကူး၊ ထုတ်လုပ်ခြင်းလုပ်ငန်း (media content production and distribution) |
| ၄။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း<br><br><br><br><br>မြေပိုင်ရှင်<br>မြေနှင့်အဆောက်အအုံငှားရမ်းခ<br>မြေနှင့်အဆောက်အအုံငှားရမ်း/အသုံးပြုသည့်သက်တမ်း | - ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ ကျိုက္ကဆံရပ်ကွက်၊ မာလာနွယ်လမ်းနှင့် ပင်ရွှေညောင်လမ်းထောင့်၊ အမှတ် ၅၁ B၂ ၊ မြေတိုင်းရပ်ကွက်အမှတ် ၃၄ D တွင် ဆောက်လုပ်ဆဲ ဇုန် (၃) ရှိ (၄) ထပ် အဆောက်အဦ ၂၀၄,၁၄၂ စတုရန်းပေနှင့် ဆက်စပ်သော ပြင်ပမြေကွက် ၁၀၀,၆၂၅ စတုရန်းပေ<br>- ရွှေသံလွင်ထရေးဒင်းကုမ္ပဏီလီမိတက်<br>- တစ်နှစ် ၂၈၈,၀၀၀,၀၀၀ ကျပ်<br><br><br>- ၅၀ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - **အမေရိကန်ဒေါ်လာ ၇၇.၇၂ သန်း**<br>အမေရိကန်ဒေါ်လာ (သန်း)<br>ပြည်တွင်း ၆၀.၁၁% ၄၆.၇၂<br>နိုင်ငံခြား ၃၉.၈၉% ၃၁.၀၀<br>စုစုပေါင်း ၇၇.၇၂ |
| ၆။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |

<table>
<tr><td>၇။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၅၀ နှစ်</td></tr>
<tr><td>၈</td><td>ပထမနှစ်၌ ဝန်ဆောင်မှုပေးမည့် အစီအစဉ်</td><td>
<table>
<tr><th colspan="3">Sponsor Revenues</th></tr>
<tr><th>အကြောင်းအရာ</th><th>ဇာတ်လမ်းတွဲ/ သီတင်းပတ်</th><th>ဈေးနှုန်း (US$/ဇာတ်လမ်းတွဲ)</th></tr>
<tr><td colspan="3">Prime Time (6 PM-11 PM)</td></tr>
<tr><td>In-house /Co-Production (40/50 min TV Series/Audition Reality Shows)</td><td>၁၀</td><td>၃,၅၀၀</td></tr>
<tr><td colspan="3">Non-Prime Time (5 AM-6 PM)</td></tr>
<tr><td>Infotainment (New)</td><td>၁၀</td><td>၅၀၀</td></tr>
<tr><td>Edutainment (New)</td><td>၇</td><td>၅၀၀</td></tr>
<tr><td>Documentary/ Travelogue (New)</td><td>၁</td><td>၅၀၀</td></tr>
<tr><th colspan="3">Advertising Revenues</th></tr>
<tr><th>အကြောင်းအရာ</th><th>ကြော်ငြာခြင်း (မိနစ်/ရက်)</th><th>ဈေးနှုန်း ((US$/မိနစ်)</th></tr>
<tr><td colspan="3">Prime Time (6 PM-11 PM)</td></tr>
<tr><td>Sub-Titling (TV Series)</td><td>၁၆</td><td>၁,၈၀၀</td></tr>
<tr><td colspan="3">Non-Prime Time (5 AM-6 PM)</td></tr>
<tr><td>Infotainment (New)</td><td>၁၅</td><td>၄၀၀</td></tr>
</table>
</td></tr>
<tr><td>၉။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ</td><td>- ၂၂၀ ဦး<br>၂၁၂ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၅၀၊ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၆,၅၀၀ ဖြစ်ပါသည်။)<br>၈ ဦး (တစ်လလျှင် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၅၀၀၊ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၂,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၁၀။</td><td>ငွေကြေးအထောက်အထား</td><td>- ဒေါ်မြင့်မြင့်ဝင်း အမည်ဖြင့် Shwe Bank ၌ ၂၄-၁၁-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၈၁၄,၅၁၈,၈၄၄ ခန့်ရှိကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td>၁၁။</td><td>CSR အစီအစဉ်</td><td>- အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်း</td></tr>
<tr><td>၁၂။</td><td>သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း</td><td>- ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လိုအပ်သော အစီအမံများ</td></tr>
</table>

| | | |
|---|---|---|
| | မှုအစီအစဉ် | ကြိုတင်ကာကွယ်မှုများ ပြုလုပ်မည်ဖြစ်ပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးလောင်မှုဖြစ်ပွားစဉ် မီးငြိမ်းသတ်နိုင်ရေးအတွက် ရေ (၃,၂၀၀) ဂါလံဆန့် ကွန်ကရစ်ရေကန် (၁) လုံး၊ မြင်းကောင်ရေ ၁၅ ရှိသည့် မော်တာနှင့် ပန့် (၁) လုံး၊ မီးသတ်ပိုက်နှင့် မီးသတ်ပိုက်ခေါင်း (၃) စုံတို့ကို ထားရှိမည်ဖြစ်ပါသည်။ |
| ၁၄။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ ရွှေသံလွင်ထရေးဒင်း ကုမ္ပဏီလီမိတက်နှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အအုံငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (ယာယီ)၊ MOA နှင့် AOA တို့အား တင်ပြထားပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | (က)အဆိုပြုလုပ်ငန်းသည် အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိသည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားနိုင်ခြင်းမရှိပါ။<br>(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် အမေရိကန်ဒေါ်လာ ၂၀.၉၈ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းဆောင်ရွက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၀၁၆/ ၂၀၁၈( ၀၃၅ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီ လ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dream Vision Co., Ltd. မှ ရုပ်သံဇာတ်လမ်းတွဲများ ရိုက်ကူး၊ ထုတ်လုပ်ခြင်းလုပ်ငန်း (media content production and distribution) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်မှ ၆၀.၁၁%၊ ဂျပန်နိုင်ငံ Cool Japan Fund Inc မှ ၂၀.၄၈%၊ ဂျပန်နိုင်ငံ Fund Corporation for the Overseas Development of Japan's ICT and Postal Services မှ ၁၈.၂၅% နှင့် ဂျပန်နိုင်ငံ Japan International Broadcasting Inc မှ ၁.၁၆ % ထည့်ဝင်ကာ Dream Vision Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ မာလာနွယ်လမ်းနှင့် ပင်ရွှေညောင်လမ်းထောင့်၊ မြေကွက်အမှတ် (51-B2)၊ မြေတိုင်းရပ်ကွက်အမှတ် (၃၄-D) ရှိ ဆောက်လုပ်ဆဲ ဇုန်-၃၊ လေးထပ်အဆောက်အဦ (၂၀၄,၁၄၂) စတုရန်းပေနှင့် ဆက်စပ်သောမြေကွက် (၁၀၀,၆၂၅) စတုရန်းပေပေါ်တွင် TV Production Studio Complex တည်ဆောက်၍ ရုပ်သံဇာတ်လမ်းတွဲများ ရိုက်ကူး၊ ထုတ်လုပ်ခြင်းလုပ်ငန်း (media content production and distribution) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်နှင့် ရွှေသံလွင်ထရေးဒင်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ် (မူကြမ်း)၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ) များကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၇၇.၇၂ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **မြန်မာ (US$ သန်း)** | **နိုင်ငံခြား (US$ သန်း)** | **စုစုပေါင်း (US$ သန်း)** |
|---|---|---|---|
| ငွေသား | ၄၆.၇၂ | ၃၁.၀၀ | ၇၇.၇၂ |
| **စုစုပေါင်း** | **၄၆.၇၂** | **၃၁.၀၀** | **၇၇.၇၂** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၁၂ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၅၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၆,၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၈ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၅၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၂,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပါလုပ်ငန်းမှ ပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့်(အမျိုးအစား)နှင့် ဝန်ဆောင်ခနှုန်း (US$) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**Sponsor Revenues**

| အကြောင်းအရာ | ဇာတ်လမ်းတွဲ/ သီတင်းပတ် | ဈေးနှုန်း (US$/ဇာတ်လမ်းတွဲ) |
|---|---|---|
| **Prime Time (6 PM-11 PM)** | | |
| In-house /Co-Production (40/50 min TV Series/Audition Reality Shows) | ၁၀ | ၃,၅၀၀ |
| **Non-Prime Time (5 AM-6 PM)** | | |
| Infotainment (New) | ၁၀ | ၅၀၀ |
| Edutainment (New) | ၇ | ၅၀၀ |
| Documentary/ Travelogue (New) | ၁ | ၅၀၀ |

**Advertising Revenues**

| အကြောင်းအရာ | ကြော်ငြာခြင်း (မိနစ်/ရက်) | ဈေးနှုန်း ( US$/မိနစ်) |
|---|---|---|
| **Prime Time (6 PM-11 PM)** | | |
| Sub-Titling (TV Series) | ၁၆ | ၁,၈၀၀ |
| **Non-Prime Time (5 AM-6 PM)** | | |
| Infotainment (New) | ၁၅ | ၄၀၀ |

၇။ အဆိုပါလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အစည်းအဝေးအမှတ်စဉ် (၄၆/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၁) အရ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပြန်ကြားရေးဝန်ကြီးဌာနမှ ရုပ်သံဇာတ်လမ်းတွဲအစီအစဉ်များ ထုတ်လုပ်ရောင်းချခြင်း (Content Production) လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

၈။ ငွေကြေးအထောက်အထားအဖြစ် ဒေါ်မြင့်မြင့်ဝင်း အမည်ဖြင့် Shwe Bank ၌ ၂၄-၁၁-၂၀၁၇ ရက်စွဲတွင် ကျပ် ၈၁၄,၅၁၈,၈၄၄ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ တစ်ဖက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

(ဂ) အဆိုပါလုပ်ငန်းသည် အမိန့်ကြော်ငြာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိပါ၍ ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားနိုင်ခြင်း မရှိပါ။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

(င) အမေရိကန်ဒေါ်လာ ၂၀.၉၈ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းဆောင်ရွက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Dream Vision Co., Ltd. မှ ရုပ်သံဇာတ်လမ်းတွဲများရိုက်ကူး၊ ထုတ်လုပ်ခြင်းလုပ်ငန်း (media content production and distribution) လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၃ ရက်

M4-0015
8-1-018

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ကောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၁၂.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ထွေ/၂၀၁၇(၅၄၈)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်မှ ၆၀.၁၁%၊ ဂျပန်နိုင်ငံ Cool Japan Fund Inc မှ ၂၀.၄၈%၊ ဂျပန်နိုင်ငံ Fund Corporation for the Overseas Development of Japan's ICT and Postal Services မှ ၁၈.၂၅% နှင့် ဂျပန်နိုင်ငံ Japan International Broadcasting Inc မှ ၁.၁၆% ဖြင့် မြန်မာနိုင်ငံတွင် Dream Vision Co.,Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ မာလာနွယ်လမ်းနှင့် ပင်ရွှေညောင်လမ်းထောင့်၊ အမှတ်(၅၁-B 2) ကို ငှားရမ်း၍ ရုပ်ရှင်ဇာတ်ကားများ ထုတ်လုပ်ဖြန့်ချိခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၈.၁၂.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၆/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၁)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္စာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
တာမွေမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Dream Vision Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet 40(5)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ပြန်ကြားရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**



စာအမှတ်၊ ၃-၁၀(၃/၂၀၁၈)/၀၆၂
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီ လ၁၄ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁၂-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မကရ-၅(အ)/ခ-၀၁၆/၂၀၁၇(၅၈၉)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်မှ ၆၀.၁၁ %၊ ဂျပန်နိုင်ငံ Cool Japan Fund Inc မှ ၂၀.၄၈ %၊ ဂျပန်နိုင်ငံ Fund Corporation for the Overseas Development of Japan's ICT and Postal Services မှ ၁၈.၂၅ % နှင့် ဂျပန်နိုင်ငံ Japan International Broadcasting Inc မှ ၁.၁၆ % ဖြင့် မြန်မာနိုင်ငံတွင် Dream Vision Co.,Ltd. တည်ထောင်၍ ရုပ်ရှင်ဇာတ်လမ်းတွဲ အစီအစဉ်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ သို့ဖြစ်ပါ၍ Dream Vision Co.,Ltd. က မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် ရုပ်သံဇာတ်လမ်းတွဲအစီအစဉ်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းမှာ လက်ရှိပြဋ္ဌာန်းထားသည့် ရုပ်မြင်သံကြားနှင့်အသံထုတ်လွှင့်ခြင်းဆိုင်ရာ ဥပဒေအရ အကျုံးဝင်သော လုပ်ငန်းအမျိုးအစားဖြစ်ပြီး ပြည်ပရင်းနှီးမြှုပ်နှံမှုမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့ထားသည့် Criteria သတ်မှတ်ချက်အတိုင်းဖြစ်ခြင်း၊ Content Production လုပ်ငန်းအတွက်သာ ဆောင်ရွက်လိုခြင်းဖြစ်ကြောင်းတွေ့ရှိရခြင်းနှင့် ရင်းနှီးမြှုပ်နှံမှုသက်တမ်း မည်သို့ပင် သတ်မှတ်ထားရှိစေကာမူ ရုပ်မြင်သံကြားနှင့် အသံထုတ်လွှင့်ခြင်းဆိုင်ရာဥပဒေအရကောင်စီ ပေါ်ပေါက်လာချိန်တွင် ရုပ်မြင်သံကြားနှင့် အသံထုတ်လွှင့်ခြင်းဆိုင်ရာလုပ်ငန်းများ အားလုံးသည် လုပ်ငန်းလိုင်စင်များကို ပြန်လည်လျှောက်ထားရမည် ဖြစ်သောကြောင့် Content Production လုပ်ငန်း ဆောင်ရွက်ခြင်းဖြစ်ပါက ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြား အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
(မျိုးမြင့်မောင်၊ အမြဲတမ်းအတွင်းဝန် )

